ကုမ္ပဏီအမည် - Paradiso Cimemas Co., Ltd. (ကျောက်ပန်းတောင်းမြို့နယ်)

လုပ်ငန်း - **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်းလုပ်ငန်း (Cinema Construction and Operation of Movies Show) ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြည်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှအဆိုပြုလွှာတင်ပြလာခြင်း | ၈-၃-၂၀၁၇ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ၈/၂၀၁၇ သို့တင်ပြခြင်း | ၁၄-၃-၂၀၁၇ | | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်ပေးပို့ခြင်း | ၂၀-၃-၂၀၁၇ | | |
| ၆ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၀-၃-၂၀၁၇ | | |
| | | ၂၈-၄-၂၀၁၇ | | |
| | | ၁၉-၅-၂၀၁၇ | | |
| | | ၂၀-၃-၂၀၁၇ | | |
| | | ၁၉-၆-၂၀၁၇ | ၁၃-၇-၂၀၁၇ | |
| | (ခ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန | ၂၀-၃-၂၀၁၇ | ၄-၄-၂၀၁၇ | |
| ၇ | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များအရ ပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၁၀-၄-၂၀၁၇ | | |
| ၈ | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၂၀-၇-၂၀၁၇ | | |
| ၉ | ကော်မရှင်အစည်းအဝေးသို့တင်ပြခြင်း (၁၁/၂၀၁၇)MIC | ၄-၈-၂၀၁၇ | | |
| | **စုစုပေါင်းကြာမြင့်ရက် ၁၁၆ ရက်** | | | |

| | |
|---|---|
| ကုမ္ပဏီအမည် | **Paradiso Cinemas Co., Ltd. (ကျောက်ပန်းတောင်းမြို့နယ်)** |
| အဖွဲ့အစည်းပုံသဏ္ဌာန် | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | Paradiso Cinemas Co., Ltd. မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ရုပ်ရှင်ရုံများ ဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်းလုပ်ငန်း(Construction of Cinemas and Operation of Movies Show) |
| တည်နေရာ | မန္တလေးတိုင်းဒေသကြီး၊ ကျောက်ပန်းတောင်းမြို့နယ်၊ သီရိမင်္ဂလာရပ်ကွက်၊ ကွင်းအမှတ်-၂၀၆၉/ခ ကျောက်ပန်းတောင်း၊ မြေကွက်အမှတ်- ၃၂၅ ရှိ မြေဧရိယာ ၀.၃၄ ဧက |
| စုစုပေါင်းမတည်ငွေရင်း | အမေရိကန်ဒေါ်လာ ၀.၃၇ သန်း |
| လုပ်ငန်းသက်တမ်း | ၁၀ နှစ် |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ **Cost & Benefit**ကိုအောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀သန်း(တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၂၀သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | - | - |
| ၄ | ဝင်ငွေခွန် | ကျပ် ၁၈၀.၀၀ သန်း | ကျပ် ၁၆၀.၀၀ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၃၆၀.၀၁သန်း |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | - |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ကျပ် ၂.၂၈ သန်း<br>တစ်နှစ်ဝင်ငွေကျပ် သိန်း(၄၈)<br>ကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၁၄) ဦး |
| ၈ | CSR(၂%) | - | ကျပ် ၁၉.၅၁ သန်း |
| ၉ | မြေငှားရမ်းခငွေ | - | - |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | - | ပြည်တွင်းလုပ်သား (၁၄)ဦးအလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့် အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက် အကူပြုစေပါသည်။ |
| | | **ကျပ် ၁၈၃.၀၀ သန်း** | **ကျပ် ၇၄၂.၇၉ သန်း** |
| | | ၁ း ၄ | |

**Paradiso Cinemas Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့်ရုပ်ရှင်ပြသခြင်းလုပ်ငန်း (Construction of Cinemas and Operation of Movies Show) နှင့်စပ်လျဉ်းသည့် အဓိကအချက်များ**

<table>
<tr><td>၁။</td><td>ကုမ္ပဏီအမည်/ ကမကထပြုသူ</td><td>- Paradiso Cinemas Co., Ltd.<br>- ဦးတင်မောင်ဝင်း</td></tr>
<tr><td>၂။</td><td>ရင်းနှီးမြှုပ်နှံမှုပုံစံ</td><td>- ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- မြန်မာနိုင်ငံ MAZE Co., Ltd ၆၀ %<br>- ပြင်သစ်နိုင်ငံ Mr. Guy Robert EUGENE ၄၀ %</td></tr>
<tr><td>၃။</td><td>အဆိုပြုလုပ်ငန်းအမျိုးအစား</td><td>ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့်ရုပ်ရှင်ပြသခြင်းလုပ်ငန်း (Construction of Cinemas and Operation of Movies Show)</td></tr>
<tr><td>၄။</td><td>လုပ်ငန်းတည်နေရာ<br><br><br>မြေအကျယ်အဝန်း</td><td>- မြေကွက်အမှတ်- ၃၂၅၊ ကွင်းအမှတ်-၂၀၆၉ (ခ) ကျောက်ပန်းတောင်း၊ သီရိမင်္ဂလာရပ်ကွက်၊ ကျောက်ပန်းတောင်းမြို့နယ်၊ ညောင်ဦးခရိုင်၊ မန္တလေးတိုင်းဒေသကြီး။<br>- စုစုပေါင်းမြေဧရိယာ ၃.၈၀ ဧက အနက် ၀.၃၄ ဧက</td></tr>
<tr><td>၅။</td><td>မြေပိုင်ရှင်</td><td>- ကျောက်ပန်းတောင်းမြို့နယ်စည်ပင်သာယာရေးအဖွဲ့</td></tr>
<tr><td>၆။</td><td>မြေငှားရမ်းခ</td><td>- တစ်လလျှင် ကျပ် ၁၀ သိန်းနှုန်း</td></tr>
<tr><td>၇။</td><td>မြေငှားသက်တမ်း</td><td>- ၁၀ နှစ်</td></tr>
<tr><td>၈။</td><td>စုစုပေါင်းမတည်ငွေရင်း<br>ထည့်ဝင်သည့်အမျိုးအစား</td><td>အမေရိကန်ဒေါ်လာ ၀.၃၇ သန်း<br><table><tr><td>နိုင်ငံခြား (US$ သန်း)</td><td>မြန်မာ (US$ သန်း)</td><td rowspan="2">စုစုပေါင်း (US$သန်း)</td></tr><tr><td>ငွေသား</td><td>ငွေသား</td></tr><tr><td>၀.၁၅</td><td>၀.၂၂</td><td>၀.၃၇</td></tr></table></td></tr>
<tr><td>၉။</td><td>တည်ဆောက်ရေးကာလ</td><td>- ၅ လ</td></tr>
<tr><td>၁၀။</td><td>ရင်းနှီးမြှုပ်နှံမှုသက်တမ်း</td><td>- ၁၀ နှစ်</td></tr>
<tr><td>၁၁။</td><td>ဝန်ထမ်းအင်အား<br>ပြည်တွင်း<br><br><br><br>ပြည်ပ</td><td>- ၁၄ ဦး<br>၁၀ ဦး (တစ်လလျှင် ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၁၀,၀၀၀၊ အမြင့်ဆုံးလစာမှာ ကျပ် ၄၇၀,၀၀၀ ဖြစ်ပါသည်။<br>၄ ဦး (နေ့စားဝန်ထမ်း)<br>- ခန့်ထားခြင်းမရှိပါ။</td></tr>
<tr><td>၁၂။</td><td>ငွေကြေးအထောက်အထား</td><td>- MAZE Co., Ltd. အမည်ဖြင့် ကမ္ဘောဇဘဏ်(International Banking Division)၌ (၄-၈-၂၀၁၆) ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၃၄,၅၀၀ ရှိကြောင်းနှင့် Mr. Guy Robert EUGENE အမည်ဖြင့် HSBC (Dubai) ၌ (၇-၁၂-၂၀၁၆) ရက်စွဲဖြင့် AED ၁၇,၀၁၆.၉၂ ရှိကြောင်းတင်ပြထားပါသည်။</td></tr>
</table>

| | | |
|---|---|---|
| ၁၃။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (တစ်နှစ်လျှင်) | - နှစ်စဉ် လျှပ်စစ်ဓာတ်အား လိုအပ်ချက်အနေဖြင့် ၁၀၀,၀၀၀ units ဖြစ်ကြောင်းနှင့် နိုင်ငံတော်မှ ဖြန့်ဖြူးသည့် လျှပ်စစ်ဓါတ် အား မရရှိသော အချိန်တွင် ကိုယ်ပိုင်မီးစက် ထားရှိ၍ ဆောင်ရွက်မည်ဖြစ်ပါသည်။ |
| ၁၄။ | မြေငှားစာချုပ်ပါအဓိကအချက်များ | - Paradiso Cinemas Co., Ltd. နှင့် ကျောက်ပန်းတောင်းမြို့နယ် စည်ပင်သာယာရေးအဖွဲ့တို့ ချုပ်ဆိုထားသည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်ပါ အဓိက အချက်များမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-<br>(က) မြေကွက်အမှတ်- ၃၂၅၊ ကွင်းအမှတ်-၂၀၆၉(ခ) ကျောက်ပန်းတောင်း၊ သီရိမင်္ဂလာရပ်ကွက်၊ ကျောက်ပန်းတောင်းမြို့နယ်၊ ညောင်ဦးခရိုင်၊ မန္တလေးတိုင်းဒေသကြီးရှိ စုစု ပေါင်း မြေ ဧရိယာ ၃.၈၀ ဧက အနက် ၀.၃၄ ဧက အား ငှားရမ်း ဆောင်ရွက်မည်ဖြစ်ပါသည်။<br>(ခ) မြေငှားရမ်းသည့် သက်တမ်းကာလမှာ စာချုပ်လက်မှတ် ရေးထိုးသည့်နေ့မှစ၍ ၁၀ နှစ် ဖြစ်ပါသည်။<br>(ဂ) ငှားရမ်းခနှုန်းမှာ တစ်လလျှင် ကျပ် ၁၀ သိန်းနှုန်းဖြင့် ငှားရမ်း ဆောင်ရွက်မည်ဖြစ်ပါသည်။ |
| ၁၅။ | အခြားတင်ပြချက်များ | (က) အဆိုပြုချက်နှင့်အတူ MAZE Co., Ltd. နှင့် Mr. Guy Robert EUGENE တို့ချုပ်ဆိုထားသည့် JV စာချုပ် ကုမ္ပဏီ၏မှတ်ပုံတင်လက်မှတ် MoA& AoA၊ ပုံစံ(၆/၂၆) တို့ကို တင်ပြထားပါသည်။ |
| ၁၆။ | **စိစစ်တင်ပြချက်** | (က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၆ ပုဒ်မခွဲ(ဃ) အရ နိုင်ငံတော်ပိုင်မြေနှင့် အဆောက်အအုံများ အသုံးပြုသည့် လုပ်ငန်းသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများသည် ကော်မရှင် ခွင့်ပြုမိန့်ရရှိမှသာ ဆောင်ရွက်ရမည်ဖြစ်ကြောင်း စိစစ်ရပါသည်။<br>(ခ) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှုမြှင့်တင်မည့် လုပ်ငန်း စာရင်းတွင် ပါဝင်ခြင်းမရှိပါကြောင်းစိစစ်ရပါသည်။<br>(ဂ) အမေရိကန်ဒေါ်လာ ၂၆၇,၂၄၀ တန်ဖိုးရှိ ရုပ်ရှင်ရုံအတွက် လိုအပ်သော ပစ္စည်းများကို ပြည်ပမှ တင်သွင်းဆောင်ရွက်မည်ဖြစ်ပါသည်။ |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/န-၀၃၃(၃)/၂၀၁၇( ၄၅၁ )

ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇူလိုင် လ ၂၅ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **Paradiso Cinemas Co., Ltd. မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ရုပ်ရှင်ရုံများ ဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်းလုပ်ငန်း (Construction of Cinemas and Operation of Movies Show) ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံ MAZE Co., Ltd မှ ၆၀ % နှင့် ပြင်သစ်နိုင်ငံ Mr. Guy Robert EUGENE မှ ၄၀ % ဖြင့် Paradiso Cinemas Co., Ltd. တည်ထောင်၍ မြန်မာနိုင်ငံတဝှမ်းတွင် ရုပ်ရှင်ရုံ(၁၀၀) ဆောက် လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်းလုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။ ၎င်းအနက်မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ပန်းတောင်း မြို့နယ်၊ သီရိမင်္ဂလာရပ်ကွက်၊ ကွင်းအမှတ်-၂၀၆၉(ခ) ကျောက်ပန်းတောင်း၊ မြေကွက်အမှတ်- ၃၂၅၊ ရှိ မြေဧရိယာ ၃.၈၀ ဧကအနက် ၀.၃၄ ဧက တွင် ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Construction of Cinemas and Operation of Movies Show (ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်း)လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ Paradiso Cinemas Co., Ltd. မှ ဒါရိုက်တာဦးတင်မောင်ဝင်းနှင့် ဦးကျော်နိုင် (အမှုဆောင်အရာရှိ၊ ကျောက်ပန်းတောင်းမြို့နယ်စည်ပင်သာယာရေးအဖွဲ့) တို့ ချုပ်ဆိုထားသည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်၊ ဖက်စပ်စာချုပ်၊ ကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းတို့ကို ပူးတွဲတင်ပြ ထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် ကျောက်ပန်းတောင်းမြို့နယ်၊ သီရိမင်္ဂလာရပ်ကွက်၊ ကွင်းအမှတ်-၂၀၆၉(ခ) ကျောက်ပန်းတောင်း၊ မြေကွက်အမှတ်- ၃၂၅၊ ရှိ မြေဧရိယာ ၀.၃၄ ဧကအား တစ်နှစ်လျှင် ကျပ်သိန်း (၁၂၀) နှုန်းဖြင့် ငှားရမ်းဆောင်ရွက်မည် ဖြစ်ပါကြောင်း (၁၀) နှစ် သက်တမ်းရှိ မြေငှားရမ်းခြင်း စာချုပ်အား ပူးတွဲ တင်ပြထားပါသည်။

၄။ အဆိုပြုလုပ်ငန်းများ၏ သက်တမ်းကာလမှာ ကနဦး (၁၀)နှစ် ဖြစ်၍ တည်ဆောက်ရေးကာလမှာ (၅) လဖြစ်ပါသည်။ ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါ က လုပ်ငန်းစတင် ဆောင်ရွက်မည်ဖြစ် ပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၀.၃၇ သန်း ဖြစ်ပါသည်။ အမေရိကန် ဒေါ်လာ ၂၆၇,၂၄၀ တန်ဖိုးရှိ လိုအပ်သော စက်ပစ္စည်းကိရိယာများအား ပြည်ပမှ တင်သွင်းမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | | နိုင်ငံခြား(US$ သန်း) | မြန်မာ(US$ သန်း) | စုစုပေါင်း(US$သန်း) |
| --- | --- | --- | --- | --- |
| (က) | ငွေသား | - | ၀.၀၀၃ | ၀.၀၀၃ |
| (ခ) | စက်ပစ္စည်း | ၀.၁၁၃ | ၀.၂၀၇ | ၀.၃၂၀ |
| (ဂ) | အခြား | ၀.၀၃၄ | - | ၀.၀၃၄ |
| | **စုစုပေါင်း** | **၀.၁၄၇** | **၀.၂၁၀** | **၀.၃၅၇** |

၆။ လုပ်ငန်းဆောင်ရွက်ရန် နေ့စားဝန်ထမ်း ၄ ဦးအပါအဝင် ပြည်တွင်းဝန်ထမ်း (၁၄) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်၍ ပြည်ပဝန်ထမ်း ခန့်ထားရန်မရှိကြောင်း တင်ပြထားပါသည်။ ပြည်တွင်း ဝန်ထမ်း တစ်ဦး ၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၄၇၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းများ နှင့်ပတ်သက်၍ တစ်ဖက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ကျောက်ပန်းတောင်းမြို့နယ်ရှိ မြေဧရိယာ ၀.၃၄ ဧက ပေါ်တွင် ဆောင်ရွက်မည့် ရုပ်ရှင်လုပ်ငန်းနှင့်ပတ်သက်၍ ၂၀၁၇ ခုနှစ်၊ ဇူလိုင်လ ၁၃ ရက်နေ့ရက်စွဲဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

(ခ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက် ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်း ကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ် များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် **လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု** (Corporate Social Responsibility – CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%)အား အသုံးပြုခြင်း အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိ ကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်သွားရန်၊ အဆိုပြုလုပ်ငန်း များကြောင့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်း ဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်သည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက်သုံးစွဲမည့် ရန်ပုံငွေစသည့်တို့ ပါဝင်သည့် **ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ်** (Environmental Management Plan-EMP) ကို မန္တလေး တိုင်းဒေသကြီးရှိ ရုပ်ရှင်ရုံများတည်ဆောက်မည့် ကျောက်ပန်းတောင်းမြို့နယ်၊ မတ္တရာမြို့နယ်နှင့် ရမည်းသင်းမြို့နယ်များအတွက် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း ပါ အချက်အလက်များ နှင့်အညီ သီးခြားစီ အစီရင်ခံ ရေးသားတင်ပြရန်၊ စီမံကိန်းဆောင်ရွက် မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ် ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန် ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊

လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့် ပုံစံများကို ဖြည့်စွက်၍ တစ်ပါတည်းတင်ပြရန်၊ သက်ဆိုင်ရာ မန္တလေးတိုင်းဒေသကြီး၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနနှင့် ဆက်သွယ်၍ ရုပ်ရှင်မပြသမီ ပတ်ဝန်းကျင်ဆိုင်ရာ အသိပညာပေးအစီအစဉ်များ ထည့်သွင်းပြသနိုင်ရေးညှိနှိုင်းဆောင်ရွက်ရန် သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေများကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်းတင်ပြထားပါသည်။)**

၈။ ငွေကြေးအထောက်အထားများအဖြစ် MAZE Co., Ltd. အမည်ဖြင့် ကမ္ဘောဇဘဏ် (International Banking Division)၌ (၄-၈-၂၀၁၆) ရက်စွဲဖြင့် အမေရိကန် ဒေါ်လာ ၃၄,၅၀၀ နှင့် Mr. Guy Robert EUGENE အမည်ဖြင့် HSBC (Dubai)၌ (၇-၁၂-၂၀၁၆) ရက်စွဲဖြင့် AED ၁၇,၀၁၆.၈၂ ရှိကြောင်းတင်ပြထားပါသည်။

၉။ အဆိုပြုလုပ်ငန်းများဆောင်ရွက်ခွင့်နှင့်စပ်လျဉ်း၍ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၇ ခုနှစ် မတ် လ ၁၄ ရက် နေ့တွင် ကျင်းပပြုလုပ်သော (၈/၂၀၁၇)အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ပါ အတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၆ ပုဒ်မခွဲ (ဃ) အရ နိုင်ငံတော်ပိုင်မြေနှင့် အဆောက်အအုံများအသုံးပြုသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများသည် ကော်မရှင်ခွင့်ပြုမိန့်ဖြင့် ဆောင်ရွက်ရမည်ဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှုမြှင့်တင်မည့် လုပ်ငန်းစာရင်းတွင် ပါဝင်ခြင်း မရှိပါကြောင်း နှင့် ဝင်ငွေခွန်ကင်းလွတ်ခွင့် ခံစားနိုင်မည်မဟုတ်ကြောင်း စိစစ်ရပါသည်။

(ဂ) ပြည်ပမှ အမေရိကန် ဒေါ်လာ ၂၆၇,၂၄၀ တန်ဖိုးရှိ ရုပ်ရှင်ရုံ အတွက် လိုအပ်သော စက်ပစ္စည်း ကိရိယာများကို တင်သွင်းဆောင်ရွက်မည်ဖြစ်ပါသည်။

(ဃ) ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက ပြန်ကြားရေးဝန်ကြီးဌာနသို့ သက်ဆိုင်ရာလုပ်ငန်းလိုင်စင်လျှောက်ထားရန် လိုအပ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ Paradiso Cinemas Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ပန်းတောင်းမြို့နယ်တွင် ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်းလုပ်ငန်း (Construction of Cinemas and Operation of Movies Show) ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)

(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

Mq-၉၆၀၈
14.7.17

နောက်ဆက်တွဲ-က

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့

စာအမှတ်၊ ၂ / ၃ - ၆ / ၃၂ ဦး ၆ (၄၅၅)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇူလိုင် လ ၁၃ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၉-၆-၂၀၁၇)ရက်စွဲပါစာအမှတ်၊ မရက- ၅(အ) / န - ၀၃၃ / ၂၀၁၇ ( ၂၈၆ )

(၂) ဤရုံး၏ (၂၆-၆-၂၀၁၇)ရက်စွဲပါစာအမှတ်၊ ၂ / ၃ - ၆ / ၃၂ ဦး ၆ (၃၀၇)

၁။ မြန်မာနိုင်ငံ MAZE Co., Ltd မှ ၆၀% နှင့် ပြင်သစ်နိုင်ငံမှ Mr. Guy Robert EUGENE မှ ၄၀% ဖြင့် Paradiso Cinemas Co.,ltd တည်ထောင်ကာ ကျောက်ပန်းတောင်းမြို့နယ်တွင် စုစုပေါင်း မြေဧရိယာ (၃.၈၀)ဧကအနက် (၀.၃၄)ဧက၊ မတ္တရာမြို့နယ်တွင် ဧရိယာ(၁.၇၉)ဧကနှင့် ရမည်းသင်းမြို့နယ်တွင် မြေဧရိယာ(၁.၀၁)ဧကတို့ကို ငှားရမ်း၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရုပ်ရှင်ရုံများ ဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်းလုပ်ငန်း ဆောင်ရွက်မည့်အပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့ သဘောထားကို ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်(၁)ပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့် ပတ်သက်၍ ရည်ညွှန်းချက်(၂)ပါစာဖြင့် (၈ - ၆ -၂၀၁၇) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၈/ ၂၀၁၇) ၊ ဆုံးဖြတ်ချက် အပိုဒ်-၄၃ အရ ကျောက်ပန်းတောင်းမြို့နယ်မှ မြေဧရိယာ (၀. ၃၄)ဧကတွင် လုပ်ငန်းဆောင်ရွက်မည့်ကိစ္စနှင့် ပတ်သက်၍ စိစစ်ဆဲဖြစ်ပါကြောင်းနှင့် မတ္တရာမြို့နယ်ရှိ မြေဧရိယာ (၁.၇၉)ဧကနှင့် ရမည်းသင်းမြို့နယ်ရှိ မြေဧရိယာ(၁.၀၁)ဧကတို့အား ငှားရမ်း၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်းလုပ်ငန်းများ ဆောင်ရွက်မည့်အပေါ် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ ကျောက်ပန်းတောင်းမြို့နယ်ရှိ မြေဧရိယာ (၀. ၃၄)ဧက ပေါ်တွင် ဆောင်ရွက်မည့် ရုပ်ရှင်လုပ်ငန်းနှင့် ပတ်သက်၍ စိစစ်ဆောင်ရွက်ပြီး ဖြစ်ပါသဖြင့် စိစစ်တွေ့ရှိချက်များအရ ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၃/၇/၁၇
ဒေါက်တာဇော်မြင့်မောင်
ဝန်ကြီးချုပ်

မိတ္တူကို

လှည့်လည်စာတွဲ ၊

ရုံးလက်ခံ ။

M4-0269
8.4.17

နောက်ဆက်တွဲ(ခ)

ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝ၀၁/ MIC(OSS) /၀၁(၁၀၀/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၄ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Paradiso Cinemas Co.,Ltd.မှ Cinema Construction and Operation of Movies Show (ရုပ်ရှင်ရုံတည်ဆောက်ခြင်းနှင့်ရုပ်ရှင်ပြသခြင်း) လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀-၃-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/ န-၀၃၃/ ၂၀၁၇ (၁၁၈)

၁။ မြန်မာနိုင်ငံ MAZE Co.,Ltd. မှ ၆၀ % နှင့် ပြင်သစ်နိုင်ငံမှ Mr. Guy Robert EUGENE မှ ၄၀% ဖြင့် ဖက်စပ်ပြုလုပ်၍ မြန်မာနိုင်ငံတွင် Paradiso Cinemas Co., Ltd. တည်ထောင်ကာ မန္တလေးတိုင်းဒေသကြီး၊ ညောင်ဦးခရိုင်၊ ကျောက်ပန်းတောင်းမြို့နယ်၊ သီရိမင်္ဂလာရပ်ကွက်၊ မြေကွက်အမှတ်- ၃၂၅၊ အကွက်အမှတ်- ၂၀၆၉/ခ၊ ကျောက်ပန်းတောင်း၊ ဦးပိုင်အမှတ်- ၉၁၅/၉၄၇ ရှိ စုစုပေါင်း မြေဧရိယာ ၃.၈၀ ဧက အနက် ၀.၃၄ ဧက (၁၃၇၅.၉၃ စတုရန်းမီတာ)၊ ပြင်ဦးလွင်ခရိုင်၊ မတ္တရာမြို့နယ်၊ အမှတ်- ၂ ဗိုလ်တေဇ ရပ်ကွက်၊ အကွက်အမှတ်- ၂၈၈/ခ၊ ဦးပိုင်အမှတ်- ၉၁၅/၉၄၇ ရှိ ဧရိယာ ၁.၇၉ ဧက (၇၂၄၃.၈၇ စတုရန်းမီတာ)၊ ရမည်းသင်းခရိုင်၊ ရမည်းသင်းမြို့နယ်၊ သင်ပန်းကုန်းရပ်ကွက်၊ မြေကွက်အမှတ် -၁၁၈၀၊ ဦးပိုင်အမှတ်- ၇၃/၉၄၇ ရှိ မြေ ဧရိယာ ၁.၀၁ ဧက (၄၀၈၇.၃၃ စတုရန်းမီတာ) တို့ကိုငှားရမ်း၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်း (Cinema Construction and Operation of Movies Show) လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လွှာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၁၀) ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၁) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၁) နှစ်ဖြစ်ကြောင်း၊ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ပန်းတောင်းရှိ မြေဧရိယာအကျယ်အဝန်း ၀.၃၄ ဧက (စတုရန်းမီတာ ၁၃၇၅.၉၃)၊ မတ္တရာမြို့နယ်ရှိ မြေဧရိယာအကျယ်အဝန်း ၁.၇၉ ဧက (စတုရန်းမီတာ ၇၂၄၃.၈၇)နှင့် ရမည်းသင်းမြို့နယ်ရှိ မြေဧရိယာအကျယ်အဝန်း ၁.၀၁ ဧက (စတုရန်းမီတာ ၄၀၈၇.၃၃) ပေါ်တွင် ထိုင်ခုံ (၃၂၀) ပါရှိသည့် (Single Screen) ရုပ်ရှင်ရုံ (၃) ရုံ တည်ဆောက်၍ အများပြည်သူသို့ ရုပ်ရှင်ပြသဖျော်ဖြေခြင်း လုပ်ငန်းကိုလုပ်ကိုင်ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ခ) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့် အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

(ဃ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ သဘာဝပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရေးအတွက် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့် အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ တည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) အဆိုပါ Paradiso Cinemas Co., Ltd. မှ မန္တလေးတိုင်းဒေသကြီးရှိ မြို့နယ် (၇) ခုတွင် ရုပ်ရှင်ရုံများတည်ဆောက်ခြင်း လုပ်ငန်းများဆောင်ရွက်ရာတွင် မြေသားပြုပြင်ဖော်ထုတ်ခြင်းကြောင့် ထွက်ရှိလာမည့် အမှုန်၊ အမွှားများ၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊

(ခ) လုပ်ငန်းသုံးစက်နှင့်ယာဉ်ယန္တရားများ၏ဆူညံသံကြောင့်အသံညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊

(ဂ) စွန့်ပစ်ပစ္စည်းများဖြစ်သော အမဲဆီ၊ အင်ဂျင်ဝိုင်၊ လောင်စာဆီစသည့် စွန့်ပစ် အဆီ/ အရည်/ အစိုင်အခဲများကြောင့် ပတ်ဝန်းကျင် မြေထု၊ ရေထု ညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊

(ဃ) အလုပ်သမားများနှင့် ရုပ်ရှင်ကြည့်ပရိသတ်များမှ စွန့်ပစ်ပစ္စည်း အရည်၊ အစိုင်အခဲများ စွန့်ပစ်ခြင်း၊ မိလ္လာ အညစ် အကြေးများကြောင့် ပတ်ဝန်းကျင် ရေထု၊ မြေထု၊ လေထုညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Paradiso Cinemas Co.,Ltd. မှ Construction and Operation of Movies Show ( ရုပ်ရှင်ရုံတည်ဆောက်ခြင်းနှင့် ရုပ်ရှင်ပြသခြင်း ) လုပ်ငန်းအားတည်ဆောက်၍ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်သည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်

ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan-EMP) ကို မန္တလေးတိုင်းဒေသကြီးရှိ ရုပ်ရှင်ရုံများတည်ဆောက်မည့် ကျောက်ပန်းတောင်းမြို့နယ်၊ မတ္တရာမြို့နယ်နှင့် ရမည်းသင်းမြို့နယ်များအတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံး လုပ်နည်းပါအချက်အလက်များနှင့် အညီ သီးခြားစီအစီရင်ခံရေးသားတင်ပြရန်။

(ဂ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရန်နှင့်တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများကို ဖြည့်စွက်၍ တစ်ပါတည်းတင်ပြရန်၊

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သောဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ မန္တလေးတိုင်းဒေသကြီး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနနှင့် ဆက်သွယ်၍ ရုပ်ရှင်မပြသမီ ပတ်ဝန်းကျင်ဆိုင်ရာ အသိပညာပေးအစီအစဉ်များ ထည့်သွင်းပြသနိုင်ရေး ညှိနှိုင်းဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး
ရုံးလက်ခံ

# ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| | Paradiso Cimemas Co., Ltd. | (၁) ဦးတင်မောင်ဝင်း<br>မန်နေးဂျင်းဒါရိုက်တာ<br>မြန်မာ<br>၁၂/ဘဟန(နိုင်) ၀၃၇၈၄၉ | အမှတ်-၃၃၊ ပတ္တမြားလမ်း၊ မြန်မာ့ ဂုဏ်ရောင်အိမ်ရာ၊ သံသုမာလမ်း၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။ |
| | | (၂) ဦးမိုးလွင်<br>ဒါရိုက်တာ<br>မြန်မာ<br>၆/မအရ(နိုင်)၀၇၉၆၅၅ | အမှတ်-၆၃၊ အောင်မင်းခေါင်လမ်း၊ ဝင်ဒါမီယာရပ်ကွက်၊ ကမာရွတ်မြို့ နယ်၊ ရန်ကုန်မြို့။ |
| | | (၃) ဦးသူရ<br>ဒါရိုက်တာ<br>မြန်မာ<br>၁၂/ရခန(နိုင်)၀၁၈၁၁၃ | အမှတ်-၃၄၊ ၁၆၆ လမ်း၊ တာမွေကြီး (ခ)ရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။ |
| | | Individual Overseas Investor<br>(1) Mr. Guy Robert EUGENE<br>Director<br>French<br>15 FV05241 | No. 23, Chemindes Fees VERBIER 1936, Switzerland. |
| | | (2) Mr. Pramod Arora<br>Director<br>India<br>Z-2217095 | No.11, Paschim Marg, DLF City Phase 1, Gurgaon 122002, Haryana, India. |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ် - ၀၉- ၅၀၀၄၃၈၅

၂။ ဆက်သွယ်ရမည့်လိပ်စာအပြည့်အစုံ - အမှတ်(၂၀)၊ ပုလဲလမ်း၊ ရွှေတောင်ကြားရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးတင်မောင်ဝင်း (မန်နေးဂျင်းဒါရိုက်တာ)

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့်ရုပ်ရှင် ပြသခြင်း လုပ်ငန်း (Construction of Cinemas and Operation of Movies Show)

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ - ၄၁၁ အက်ဖ်စီ/၂၀၁၆-၂၀၁၇ (ရက) (၁၆-၈-၂၀၁၆)

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ - ၁၅-၂-၂၀၁၇

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် - -

| Paradiso Cinemas Co., Ltd.<br>ရုပ်ရှင်ရုံ(၁၀၀)စီမံကိန်း<br>ခွင့်ပြုမိန့်၊ အတည်ပြုမိန့်ထုတ်ပေးပြီးသည့်စာရင်း | | | |
|---|---|---|---|
| ၁ | နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရခွင့်ပြုမိန့်ထုတ်ပေးပြီးသည့်လုပ်ငန်းများ | ၁ | Paradiso (မှော်ဘီ) |
| | | ၂ | Paradiso (မုံရွာ) |
| | | ၃ | Paradiso (ဖျာပုံ) |
| **စုစုပေါင်း** | | | ၃ ရုံ |
| | | | |
| ၂ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ **အတည်ပြုမိန့်** ထုတ်ပေးပြီးသည့်လုပ်ငန်းများ | ၁ | Paradiso (ကလေးမြို့) |
| | | ၂ | Paradiso (ရွှေဘို) |
| | | ၃ | Paradiso (အေးသာယာ) |
| | | ၄ | Paradiso (အောင်ပန်း) |
| | | ၅ | Paradiso (ဘိုကလေး) |
| | | ၆ | Paradiso (မအူပင်) |
| | | ၇ | Paradiso (သထုံ) |
| **စုစုပေါင်း** | | | ၇ ရုံ |
| ၃ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ **ခွင့်ပြုမိန့်** ထုတ်ပေးပြီးသည့်လုပ်ငန်းများ | ၁ | Paradiso (မတ္တရာ) |
| | | ၂ | Paradiso (ရမည်းသင်း) |
| **စုစုပေါင်း** | | | ၂ ရုံ |
| | | | |
| ၄ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ (၁၁/၂၀၁၇)တွင် တင်ပြသည့်စာရင်း (ခွင့်ပြုမိန့်) | ၁ | Paradiso(ကျောက်ပန်းတောင်း) |
| **စုစုပေါင်း** | | | ၁ ရုံ |
| **နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုပြီးသည့် ရုပ်ရှင်ရုံစုစုပေါင်း** | | | **၁၃ ရုံ** |